ကုမ္ပဏီအမည် - SG Crabs World Ltd. ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ

လုပ်ငန်း - ကဏန်းပျော့များ (Soft Shell) မွေးမြူပြီး တန်ဖိုးမြှင့်ကုန်စည် (VAP)အဖြစ် ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | ကြာမြင့်ရက် | မှတ်ချက် |
|---|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၉-၉-၂၀၁၄ | | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | | |
| | (က) စီမံကိန်း၊စီစစ်ရေးနှင့်တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန | ၁၆-၉-၂၀၁၄ | ၁၉-၉-၂၀၁၄ | ၃ ရက် | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန | ၁၆-၉-၂၀၁၄ | ၂၃-၉-၂၀၁၄ | ၇ရက် | |
| | (ဂ) မွေးမြူရေး၊ရေလုပ်ငန်းနှင့် ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန | ၁၆-၉-၂၀၁၄ | ၂၄-၉-၂၀၁၄ | ၆ရက် | |
| | (ဃ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ (ပထမအကြိမ်) ဒုတိယအကြိမ် | ၁၆-၉-၂၀၁၄<br>၂-၁၀-၂၀၁၄ | ၅-၁၂-၂၀၁၄ | ၈၀ရက် | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေး (၃၆/၂၀၁၄) သို့ တင်ပြခြင်း | ၁၅-၉-၂၀၁၄ | | ၆ ရက် | |
| ၄ | အဆိုပြုလွှာ လက်ခံကြောင်းစာ ပေးပို့ခြင်း | ၁၅-၉-၂၀၁၄ | | ၆ ရက် | |
| ၂ | ကုမ္ပဏီမှ ပြင်ဆင်ချက်များ ပြင်ဆင်၍ ပြန်လည်တင်ပြခြင်း | ၅-၉-၂၀၁၄ | | ၁၈ ရက် | |
| ၃ | ကော်မရှင်အစည်းအဝေးသို့ တင်ပြခြင်း | ၁၂-၁၂-၂၀၁၄ | | | |
| ၄ | စုစုပေါင်းကြာမြင့်ရက် | | | ၉၃ရက် | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | SG Crabs World Ltd. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု(JV)<br>-Crabs World Industries Co., Ltd.(၁၀%) (မြန်မာနိုင်ငံ)<br>Spacious Global Co., Ltd. (၉၀%) (ဘရူနိုင်း ဒါရူဆလမ် နိုင်ငံ) |
| လုပ်ငန်းအမျိုးအစား | - | ကဏန်းပျော့များ (Soft Shell) မွေးမြူပြီး တန်ဖိုးမြှင့်ကုန်စည် (VAP) အဖြစ် ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း |
| တည်နေရာ | - | ကွင်းအမှတ် ၆၁၂၊ ၆၁၃-က၊ ၆၁၈-က၊ ငွေးပင်ကွင်း၊ ဆိပ်ကြီးအနောက်ကွင်း၊ ကရပ်ကွင်း၊ ဦးပိုင်အမှတ် (၇)-(၃)-(၂), (၆)-(၁)-(၁), ၂ ကျောက်တန်းမွေးမြူရေးဇုန်၊ အမ်အီးစီလမ်း၊ သီတာမြိုင်ရပ်ကွက် ကျောက်တန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | US$ ၂.၈၈၆ သန်း (ကျပ်ငွေ ၂၈၀၀ သန်း) |
| ရောင်းချမည့်စနစ် | - | ပြည်တွင်း ၅ % နှင့် ပြည်ပ ၉၅%ရောင်းချမည်ဖြစ်ပါသည်။ |
| လုပ်ငန်းသက်တမ်း | - | (၃၀) နှစ် |
| အရင်းကြေကာလ | - | ၄ နှစ်၊ ၆လ |
| IRR | - | ၂၅.၅၃ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၁.၆၈၀ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ကျပ် ၁.၁၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၄.၅၅၉သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၉၇၃၂.၆ သန်း | ကျပ် ၁၄၀၇၃.၉၅သန်း |
| ၅ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၁၆၄၅.၅၂ သန်း |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်းထမ်းဆောင်ပါမည်။ |
| ၇ | CSR (၂%) | | ကျပ် ၁၀၃.၀၁သန်း |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းလုပ်သား (၁၀၅၀)ဦးအလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့်ဒေသ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကိုအထောက်အကူပြုစေပါသည်။ |
| | | ကျပ် ၉၇၃၈.၈၄သန်း | ကျပ် ၁၅၈၂၃.၆၅သန်း |
| | Cost & Benefit | ၁ : ၆ | |

အကြောင်းအရာ။ SG Crabs World Ltd.မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ကဏန်းပျော့များ (Soft Shell) မွေးမြူပြီး တန်ဖိုးမြှင့်ကုန်စည် (VAP)အဖြစ် ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ကမကထပြုသူ | - SG Crabs World Ltd.<br>- Mr, lu Yeo Lee (ထိုင်ဝမ်နိုင်ငံသား) |
| | အဖွဲ့အစည်းပုံသဏ္ဌာန်<br><br>ကက၄/၂၀၁၇<br>၂-၁-၂၀၁၇ | -ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု(JV)<br>-Crabs World Industries Co., Ltd.(၁၀%) (မြန်မာနိုင်ငံ)<br>Spacious Global Co., Ltd. (၉၀%) (ဘရူနိုင်း ဒါရူဆလမ် နိုင်ငံ) |
| | လုပ်ငန်းအမျိုးအစား | -ကဏန်းပျော့များ (Soft Shell) မွေးမြူပြီး တန်ဖိုးမြှင့်ကုန်စည် (VAP) အဖြစ် ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - ကွင်းအမှတ် ၆၁၂၊ ၆၁၃-က၊ ၆၁၈-က၊ ငွေးပင်ကွင်း၊ ဆိပ်ကြီးအနောက်ကွင်း၊ ကရပ်ကွင်း၊ ဦးပိုင်အမှတ် (၇)-(၃)-(၂), (၆)-(၁)-(၁), ၂ ကျောက်တန်းကဏန်းမွေးမြူရေးဇုန်၊ အမ်အီးစီလမ်း၊ သီတာမြိုင်ရပ်ကွက် ကျောက်တန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| ၃။ | မြေအကျယ်အဝန်း | - ၂၇၅.၈၆ဧက(၁,၁၁၆,၃၆၄.၀၄ စတုရန်းမီတာ) |
| ၄။ | မြေပိုင်ရှင် | - Crabs World Industries Co., Ltd. |
| ၅။ | နှစ်စဉ်မြေ ငှားရမ်းခ<br>နှစ်စဉ်အဆောက်အဦငှားရမ်းခ | - ကျပ်၅၃.၅၁၆သန်း(၁နှစ်လျှင် ၁ဧက ၁၉၄,၀၀၀ကျပ်)<br>-ကျပ်၅၈.၂၀သန်း(၁နှစ်လျှင်၁စတုရန်းမီတာ ၂၂၁၂၅ကျပ်) |
| | မြေငှားရမ်းကာလ | - (၃၀) နှစ် |
| ၆။ | လုပ်ငန်းသက်တမ်း | - (၃၀) နှစ် |
| | တည်ဆောက်ရေးကာလ | ၆လ |

၇။ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု — US$ ၂.၈၈၆ သန်း (ကျပ်ငွေ ၂၈၀၀ သန်း:)

US$ သန်းပေါင်း:

| | ပြည်တွင်း | ပြည်ပ | စုစုပေါင်း |
|---|---|---|---|
| In Cash | - | ၂.၅၀၃ | ၂.၅၀၃ |
| Furnitures & Office Equipment | ၀.၀၁၅ | - | ၀.၀၁၅ |
| Machinery & Equipment | ၀.၀၉၄ | ၀.၀၉၄ | ၀.၁၈၈ |
| Rental | ၀.၁၈၀ | | ၀.၁၈၀ |
| Total | ၀.၂၈၉ | ၂.၅၉၇ | ၂.၈၈၆ |

၈။ ဝန်ထမ်းအင်အား — - ၁၀၆၀ ဦး:

ပြည်တွင်း:
- ၁၀၅၀ ဦး:အနိမ့်ဆုံး ဝန်ထမ်းလစာမှာ ကျပ်ငွေ ၉၀,၀၀၀
  အမြင့်ဆုံး ဝန်ထမ်းလစာမှာ ကျပ်ငွေ ၃၅၀,၀၀၀

ပြည်ပ
- ၁၀ ဦး: အနိမ့်ဆုံးလစာမှာ US$ ၇၀၀
- အမြင့်ဆုံး:ဝန်ထမ်းလစာမှာUS$ ၂,၀၀၀

၉။ ရောင်းချမည့် နည်းစနစ် — - ပြည်တွင်း: ၅ % နှင့် ပြည်ပ ၉၅%

၁၀။ ပုံမှန်နှစ်တွင်ထုတ်လုပ်မှုပုံမှန်နှစ် (ဆင့်မနှစ် )

| ပစ္စည်း အမျိုး အစား | ပြည်ပပို့ ၉၅% ထုတ်လုပ်မှု (Kg) | ပြည်ပပို့ ၉၅% ရောင်းဈေးနှုန်း (U$S/ Kg) | ပြည်တွင်းရောင်း ၅% ထုတ်လုပ်မှု (Kg) | ပြည်တွင်းရောင်း ၅% ရောင်းဈေးနှုန်း (ကျပ်/Kg) |
|---|---|---|---|---|
| SSC | ၅၇၀,၀၀၀ | ၁၁.၅၅ | ၃၀,၀၀၀ | ၅,၅၀၀ |
| Small Cut SSC | ၂၄၇,၀၀၀ | ၁၁.၄၀ | ၁၃,၀၀၀ | ၇,၇၀၀ |
| Breaded SSC | ၁၄၂,၅၀၀ | ၁၃.၁၀ | ၇,၅၀၀ | ၈,၀၀၀ |

၁၁။ ကုမ္ပဏီ၏ ဝင်ငွေ (ဆင့်မနှစ် ) — ကျပ်ငွေ ၁၁၂၅၉.၁၇ သန်း:

၁၂။ ကုမ္ပဏီ၏ အသုံးစရိတ် — ကျပ်ငွေ ၁၀၂၇၀.၉၉ သန်း:

၁၃။ ကုမ္ပဏီ၏ အသားတင်အမြတ် — ကျပ်ငွေ ၉၈၈.၁၇ သန်း:

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၂/န-၁၀၈/၂၀၁၄ (၈၂၂၈ )

ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဒီဇင်ဘာလ ၁၀ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့

တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **SG Crabs World Ltd.မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ကဏန်းပျော့များ (Soft Shell) မွေးမြူပြီး တန်ဖိုးမြှင့်ကုန်စည် (VAP)အဖြစ် ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

၁။ ဘရူနိုင်းဒါရူဆလမ်နိုင်ငံ၊ Spacious Global Co., Ltd. မှ ၉၀% နှင့် မြန်မာနိုင်ငံ၊ Crabs World Industries Co., Ltd.မှ ၁၀%တို့ အစုရှယ်ယာများထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် SG Crabs World Ltd. တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်၊ သီတာမြိုင်ရပ်ကွက်၊ MEC လမ်း၊ ဦးပိုင်အမှတ် ၇-၃-၂၊ ၆-၁-၁၊ ၂ ကျောက်တန်းကဏန်းမွေးမြူထုတ်လုပ်ရေးဇုန်၊ ငွေးပင်ကွင်း၊ ဆိပ်ကြီးအနောက်ကွင်း၊ ကရပ်ကွင်း၊ မြေကွက်အမှတ် ၆၁၂၊၆၁၃-က၊၆၁၈-က တွင် ကဏန်းပျော့များ (Soft Shell) မွေးမြူပြီး တန်ဖိုးမြှင့်ကုန်စည် (VAP) အဖြစ် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းအား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ လုပ်ငန်း ဆောင်ရွက်ရန်အတွက် Crabs World Industries Co., Ltd. ပိုင်ဆိုင်သည့် မြေဧရိယာ ၂၇၅.၈၆ ဧက (၁,၁၁၆,၃၆၄.၀၄ စတုရန်းမီတာ)နှင့် ယင်းမြေပေါ်ရှိ ၀.၆၅ဧက (၂၆၃၀.၄၅) စတုရန်း မီတာ အကျယ်အဝန်းရှိ အဆောက်အဦတို့ကို ငှားရမ်းလုပ်ကိုင်မည်ဖြစ်ပါသည်။ မြေပိုင်ရှင် Crabs World Industries Co., Ltd.နှင့် မြေငှားသူ SG Crabs World Ltd. တို့အကြား ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦ ငှားရမ်းခြင်း သဘောတူ စာချုပ် (မူကြမ်း) ကို တင်ပြထားပါ သည်။

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ US$ ၂.၈၈၆ သန်း ဖြစ်ပြီး ယင်းတွင် အမေရိကန်ဒေါ်လာ ၂.၅၉၇သန်းနှင့် ကျပ်ငွေ ၂၈၀သန်းတို့ ပါဝင်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

US$ သန်းပေါင်း

| | ပြည်တွင်း | ပြည်ပ | စုစုပေါင်း |
|---|---|---|---|
| ငွေသား | | ၂.၅၀၃ | ၂.၅၀၃ |
| ရုံးသုံးပရိဘောဂ | ၀.၀၁၅ | | ၀.၀၁၅ |
| စက်ပစ္စည်း | ၀.၀၉၄ | ၀.၀၉၄ | ၀.၁၈၈ |
| မြေနှင့်အဆောက်အဦငှားရမ်းခ | ၀.၁၈၀ | | ၀.၁၈၀ |
| စုစုပေါင်း | ၀.၂၈၉ | ၂.၅၉၇ | ၂.၈၈၆ |

| | | |
|---|---|---|
| ၁၄။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (ဆဌမနှစ်) | |
| | ဝင်ငွေခွန် | - ကျပ် ၃၂၉.၃၉ သန်း |
| ၁၅။ | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၁၆.၅၆ သန်း |
| ၁၆။ | အရင်းကြေကာလ | - ၄ နှစ်၊ ၆လ |
| ၁၇။ | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၅.၅၃ % |
| ၁၈။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု(နှစ်စဉ်) | - ၃၆၀၉၅၃၃၅KWH |

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ (၃၀) နှစ်ဖြစ်ပါသည်။ တည်ဆောက်ရေးကာလမှာ ၆လ ဖြစ်ပါသည်။

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း ၁၀၅၀ ဦးနှင့် ပြည်ပဝန်ထမ်း ၁၀ ဦး စုစုပေါင်း ၁၀၆၀ဦးခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံး လစာမှာ ၉၀,၀၀၀ကျပ် ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ၃၅၀,၀၀၀ကျပ် ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၇၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ US$ ၂,၀၀၀ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းမှ ထုတ်ကုန်များကို ပြည်ပသို့ ၉၅% တင်ပို့၍ ပြည်တွင်း၌ ၅% ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်(ဆဋ္ဌမမြောက်နှစ်)ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | ပစ္စည်း အမျိုးအစား | ပြည်ပပို့ ၉၅% ထုတ်လုပ်မှု (Kg) | ပြည်ပပို့ ၉၅% ရောင်းဈေးနှုန်း (U$S/ Kg) | ပြည်တွင်းရောင်း ၅% ထုတ်လုပ်မှု (Kg) | ပြည်တွင်းရောင်း ၅% ရောင်းဈေးနှုန်း (ကျပ်/Kg) |
|---|---|---|---|---|---|
| (က) | SSC | ၅၇၀,၀၀၀ | ၁၁.၅၅ | ၃၀,၀၀၀ | ၅,၅၀၀ |
| (ခ) | Small Cut SSC | ၂၄၇,၀၀၀ | ၁၀.၄၀ | ၁၃,၀၀၀ | ၇,၇၀၀ |
| (ဂ) | Breaded SSC | ၁၄၂,၅၀၀ | ၁၃.၁၀ | ၇,၅၀၀ | ၈,၈၀၀ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | ကျပ်ငွေ(သန်း) |
|---|---|
| (က)ဝင်ငွေ | ၁၁၂၅၉.၁၇ |
| (ခ)အသုံးစရိတ် | ၁၀၂၇၁.၀၀ |
| (ဂ)အသားတင်အမြတ် | ၉၈၈.၁၇ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ(၆)နှစ်မြောက်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ်ငွေ ၃၂၉.၃၉ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၁၆.၅၆ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၄ နှစ်၊ ၆လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၂၅.၅၃ %ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၉၇၀ ကျပ် နှုန်းဖြင့်တွက်ချက် ထားပါသည်။

၉။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) မွေးမြူရေး၊ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေး ဝန်ကြီးဌာန မှ ဤလုပ်ငန်း လုပ်ကိုင်ခြင်းဖြင့် ဒေသဖွံ့ဖြိုးရေးနှင့် ဒေသခံပြည်သူများအတွက် အလုပ်အကိုင်

အခွင့်အလမ်းများ ရရှိမည်ဖြစ်ခြင်း၊ခေတ်မီနည်းပညာများ တိုးပွားရရှိမည် ဖြစ်ခြင်း၊ ကဏန်းပျော့များ(Soft Shell) မွေးမြူပြီး တန်ဖိုးမြင့်ကုန်စည် (VAP) အဖြစ် ပြုပြင် ထုတ်လုပ်ခြင်း လုပ်ငန်း၊ ပင်လယ်ရေထွက်ကုန် ပစ္စည်းများကို အမယ်သစ် ထုတ်ကုန်နှင့် အဆင်သင့်စားကုန်အဖြစ် ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း နှင့် ပုဇွန်၊ ငါး၊ ကဏန်းများကို သားဖောက်၍ မွေးမြူခြင်း၊ ဖြန့်ဖြူးပေးခြင်း လုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ရန်ကုန်တိုင်းဒေသကြီးအတွင်းတွင် ပုဇွန်၊ ငါး၊ ကဏန်းများကို သားဖောက်၍ မွေးမြူခြင်း၊ ဖြန့်ဖြူးပေးခြင်း လုပ်ငန်းများကို အထောက်အကူပြုနိုင်သည့် အကျိုးကျေးဇူးများ ရရှိမည်ဖြစ်ပါကြောင်း ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ ဤလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်မှုများကို ရှောင်ရှားနိုင်ရန်အတွက်လုပ်ငန်းလည်ပတ်ခြင်းနှင့် ထုတ်လုပ်ခြင်းအဆင့်ဆင့်တို့၏ စီမံကိန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး၊ လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် အစီအစဉ်များ ရေးဆွဲပြီး လိုက်နာဆောင်ရွက်ရန်၊ လုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေး ဆိုင်ရာ ထိခိုက်မှုများ အနည်းဆုံးဖြစ်စေရေး ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်များအား စီမံခန့်ခွဲမည့် အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ဆောင်ရွက်မည့်ပုဂ္ဂိုလ် သို့မဟုတ် အဖွဲ့အစည်း၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့နည်းစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ်( Environmental Management Plan- EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊လုပ်ငန်းတွင်အသုံးပြုမည့် အအေးခန်းသုံးပစ္စည်းများအားသတ်မှတ် စံချိန်စံညွှန်းနှင့် ကိုက်ညီသည့်ပစ္စည်းများကို အသုံးပြုရန်၊ လုပ်ငန်းခွင် လေကောင်း လေသန့်ရရှိရေး၊ ပတ်ဝန်းကျင်သန့်ရှင်း ကောင်းမွန်ရေးအတွက် သင့်တော်မည့် ရေစီးရေလာစနစ်ထားရှိရန်နှင့် စက်ရုံပတ်ဝန်းကျင် စိမ်းလန်းစိုပြည်ရေးအတွက် သစ်ပင်များနှင့် ပန်းအလှပင်များ စိုက်ပျိုးထားရှိရန်၊ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သက်ဆိုင်ရာဝန်ကြီးဌာန အသီးသီးမှ ထုတ်ပြန်ထားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း စည်းကမ်းနှင့် ညွှန်ကြားချက်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရန် ပြန်ကြား

ထားပါသည်။ ကုမ္ပဏီမှ လိုအပ်ပါက IEE၊ EIAနှင့် SIA တို့ကို တင်ပြပေးမည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။ နောက်ဆက်တွဲ-ခ

(ဂ) ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ မှ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ နောက်ဆက်တွဲ-ဂ

၁၀။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Crabs World Industries Co., Ltd. ၏ မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်း ရောင်းဝယ်ရေးဘဏ်၌ ၁၅-၈-၂၀၁၄ ရက်နေ့တွင် အမေရိကန် ဒေါ်လာ ၁၆၇၅၀၉.၆၂ ရှိကြောင်း တင်ပြထားပါသည်။ Spacious Global Co., Ltd. မှ ဒါရိုက်တာ များ၏ ဘဏ်အထောက်အထားများ တင်ပြထားပါသည်။ SG Crabs World Ltd. ၏ ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် မိတ္တူများ၊ ဒါရိုက်တာ အဖွဲ့ဝင်များ၏ Passport မိတ္တူများ၊ MOA နှင့် AOA တို့ကိုလည်း တင်ပြထားပါသည်။

၁၁။ SG Crabs World Ltd. မှ ထုတ်လုပ်မှုနည်းစဉ်များနှင့် လုပ်ငန်းသဘာဝ ရှင်းလင်းချက်၊ တည်နေရာပြမြေပုံ၊ မီးဘေးကာကွယ်ရေး အစီအစဉ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်း သာယာရေးစီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်၊လစာ ခွန်ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်း၊ ကျန်းမာရေးနှင့် လုပ်ငန်းခွင်အန္တရာယ် ကင်း ရှင်းရေး ဆောင်ရွက်ထားရှိမှု၊ Waste Water Treatment ဆောင်ရွက်မည့် အစီအစဉ်၊ ဝန်ထမ်း များအတွက် ကျန်းမာရေး၊ လူမှုရေး စောင့်ရှောက်ထားရှိမည့် အစီအစဉ်များ၊ လူမှုဘဝလုံခြုံရေးနှင့် သာယာဝပြောရေးအတွက် ဆောင်ရွက်မည် ဖြစ်ကြောင်း ကတိဝန်ခံချက်တို့ကို တင်ပြထားပါသည်။

၁၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစား ခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၃။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၁/၂၀၁၃ဖြင့် ထုတ်ပြန်ထား သည့် စီးပွားရေးလုပ်ငန်း အမျိုးအစားများတွင် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ချက် ရယူရန် လိုအပ်သည့် စီးပွားရေးလုပ်ငန်း အမျိုးအစား ဖြစ်ပါသည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏၃၆/၂၀၁၄ (၁၅-၉-၂၀၁၄) အစည်းအဝေးသို့ တင်ပြခဲ့ပါ သည်။

၁၅။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သဘောတူပါက လယ်ယာ မြေ ဥပဒေ ပုဒ်မ-၃၀(က) အရ အခြားနည်းအသုံးပြုခွင့် ဆောင်ရွက်ခွင့် ပြုပါရန်ကိစ္စကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် ပြည်ထောင်စုအစိုးရအဖွဲ့၏ သဘောတူ ခွင့်ပြုချက်ရရှိပါ က ခွင့်ပြုမိန့် ထုတ်ပေးရန် ဖြစ်ပါသည်။

၁၆။ စိစစ်တင်ပြချက်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မြေနေရာနှင့်စပ်လျဉ်း၍ လယ်ယာ မြေ ဥပဒေ ပုဒ်မ-၃၀(က) အရ အခြားနည်းအသုံးပြုခွင့်၊ ခွင့်ပြုမိန့် ထောက်ခံစာကို တင်ပြထား ပါသည်။

ဆုံးဖြတ်ရန်အချက်

၁၇။ SG Crabs World Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ကဏန်းပျော့များ (Soft Shell) မွေးမြူပြီး တန်ဖိုးမြှင့်ကုန်စည် (VAP)အဖြစ် ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းအပေါ် ခွင့်ပြုရန် သဘောတူ-မတူ။

ဦးထွန်းဌေး (ကိုယ်စား)
(မြသုဓာတွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ


D:\dsez\inv\Scrab World\MIC\SG Crab MIC (Memo).8-12-14.doc

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | SG Crabs World Ltd. | Spacious Global Co., Ltd.<br>Represented by: | |
| | | (၁) Mr. Lu Yeo Lee<br>Chairman<br>Taiwanese<br>308228308 | No.116, Chongde 20th Street, Tainan City, Taiwan R.O.C |
| | | (၂) Mr. Ng Bak Kuang<br>Managing Director<br>Malaysian<br>A27432700 | 2668, Jalan Megat Harun, Taman Keenways, 14000 Bukit Mertajam, Pulau Pinang, Malaysia |
| | | (၃) Mr. Ng Bak Hwa<br>Director<br>Malaysian<br>A22351865 | 25, Jalan Indah 1, Taman Sri Bukit-Indah, 14000 Bukit Mertajam, Pulau Pinang, Malaysia |
| | | (၄) Mr. Khoo Yap Hock Cheng<br>Director<br>Malaysian<br>A22181263 | 2A, Jalan Megat Harun, Taman Jasa, 14000 Bukit Mertajam, Pulau Pinang, Malaysia |
| | | (၅) Mr. Lee Shih Yao<br>Director<br>Taiwanese<br>301043236 | 118, Jalan Tambun Indah 1, Taman Tambun Indah, 14100 Bukit Mertajam, Pulau Pinang, Malaysia |
| | | (၆) Mr. Ang Phuay Fern<br>Director<br>Malaysian<br>A22437857 | 2668, Jalan Megat Harun, Taman Keenways, 14000 Simpang Ampat, Pulau Pinang, Malaysia |
| | | Crabs World Industries Co., Ltd.<br>Represented by: | |
| | | (၇) U Pe Win @ U Hone Pe Win<br>Director<br>Myanmar<br>9/Ma Ya Ma (Naing) 082441 | No.83-84,Pyin Si Min Thar Gyi Road, Hlaing Thar Yar Industry Zone 4, Hlaing Thar Yar Township, Yangon, Myanmar |

| | | | |
|---|---|---|---|
| | | (၈) U Maung Sitt@<br>U Chu Wun Min<br>Director<br>Myanmar<br>12/ La Ma Ta (Naing) 016221 | No.22 Ground Flow, Nwe Thargi, Saw Yan Paing Street, (West) Quarter , Alone Township, Yangon, Myanmar |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၅၁၂၃၅၃၅

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - No.22 Ground Flow, Nwe Thargi, Saw Yan Paing Street, (West) Quarter , Alone Township, Yangon, Myanmar

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးမောင်စစ်
ဒါရိုက်တာ

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - ကဏန်းပျော့များ (Soft Shell) မွေးမြူပြီးတန်ဖိုးမြှင့်ကုန်စည် (VAP)အဖြစ် ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -

# SG Crabs World Ltd
## List of Machinery to be imported

Exhibit III-4

| Sr No | Description | | Number | Unit Price | Amount |
|---|---|---|---|---|---|
| 1.) | 10 Tons Flake Ice Machine | Unit | 1 | $ 44,400 | $ 44,400 |
| 2.) | Semi-Contact Shelf Plate Freezer<br>Model:SCF-1680 | Unit | 1 | $ 26,500 | $ 26,500 |
| 3.) | Anritsu KDS 8115BW Metal Detector | Unit | 1 | $ 8,300 | $ 8,300 |
| 4.) | Micro Test Equipment (Full set) | Unit | 1 | $ 15,000 | $ 15,000 |
| | | | | | |
| | Total Amt | | | | $ 94,200 |

နောက်ဆက်တွဲ(က)

ကန့်သတ်

၁၄

PT-1812
5-9-14
41
2619

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**မွေးမြူရေး၊ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ်၊၁/၂၀၀(ည)/နပတ/၃၀၁၀/ ၅၁၅၉
ရက်စွဲ၊၂၀၁၄ခုနှစ်၊ စက်တင်ဘာလ ၂၄ ရက်

အကြောင်းအရာ။ **SG Crabs World Ltd. မှ ဂဏန်းပျော့များ မွေးမြူပြီး တန်ဖိုးမြှင့်ကုန်စည် (VAP) အဖြစ် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၆-၉-၂၀၁၄)ရက်စွဲပါစာအမှတ်၊ ရက-၂/ န-၁၀၈/ ၂၀၁၄ (၀၀၉၁)

၁။ SG Crabs World Ltd. မှကျောက်တန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် ဂဏန်းပျော့များ မွေးမြူပြီး တန်ဖိုးမြှင့်ကုန်စည် (VAP) အဖြစ် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြချက်အပေါ် မွေးမြူရေး၊ ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားထားပါသည်။

၂။ SG Crabs World Ltd. မှ လုပ်ငန်းအဆိုပြုချက်နှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း တင်ပြအပ်ပါသည်-

(က) အဆိုပြုသည့် ကုမ္ပဏီ - SG Crabs World Ltd.

(ခ) ဆောင်ရွက်မည့်လုပ်ငန်း - ဂဏန်းပျော့များ (Soft Shell) မွေးမြူပြီး တန်ဖိုးမြှင့်ကုန်စည်(VAP)အဖြစ် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း၊ပင်လယ်ရေထွက်ပစ္စည်းများကို အမယ်သစ်ထုတ်ကုန်နှင့် အဆင်သင့်စားကုန်အဖြစ် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် ပုစွန်၊ ငါး၊ ဂဏန်းများကို သားဖောက်၍ မွေးမြူခြင်း၊ ဖြန့်ဖြူးပေးခြင်းလုပ်ငန်း

| | | |
|---|---|---|
| (ဂ) | လုပ်ငန်းတည်နေရာ | - မြေကွက်အမှတ်၊ ၆၁၂၊ ၆၁၃-က၊၆၁၈-က၊ ငွေးပင်ကွင်း၊ ဆိပ်ကြီးအနောက်ကွင်း၊ ကရပ်ကွင်း၊ ဦးပိုင်အမှတ်၊ ၇-၃-၂၊ ၆ -၁-၁၊ ၂ ကျောက်တန်း ဂဏန်းမွေးမြူထုတ်လုပ်ရေးဇုန်၊ MEC လမ်း၊ သီတာမြိုင်ရပ်ကွက်၊ ကျောက်တန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| (ဃ) | ရင်းနှီးမြှုပ်နှံမှုပမာဏ | - အမေရိကန်ဒေါ်လာ(၂.၈၈၆)သန်း |
| (င) | ရင်းနှီးမြှုပ်နှံမှုကာလ | - (၃၀)နှစ် |
| (စ) | အဆောက်အဦဆောက်လုပ်မည့်ကာလ | - (၂ နှစ် ၆ လ) |
| (ဆ) | အရင်းကျေကာလ | - (၃ နှစ် ၁၁လ) |
| (ဇ) | ဝန်ထမ်းအင်အား | - စုစုပေါင်း (၁၀၆၀) ဦး ပြည်တွင်း (၁၀၅၀) ဦး၊ ပြည်ပ (၁၀) ဦး |

၃။ ကုမ္ပဏီသည် အဆိုပြုလုပ်ငန်းကို ရင်းနှီးမြှုပ်နှံမှုပမာဏ အမေရိကန်ဒေါ်လာ(၂.၈၈၆) သန်းနှင့်ညီမျှသော မြန်မာငွေကျပ် (၂၅၂၀) သန်း ထည့်ဝင်ဆောင်ရွက်မည်ဖြစ်ပြီး စက်ရုံမှထွက်ရှိသည့်ကုန်ချောများကို ပြည်တွင်း၌ ၅%၊ ပြည်ပ၌ ၉၅% တင်ပို့ရောင်းချမည်ဖြစ်ပါသည်။

၄။ SG Crabs World Ltd. ၏ ငွေကြေးခိုင်မာမှုအထောက်အထား၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်း၊ စက်ရုံတည်နေရာပြမြေပုံတို့ ဖော်ပြပါရှိပါသည်။

၅။ SG Crabs World Ltd.၏ ဂဏန်းပျော့များ (Soft Shell) မွေးမြူပြီး တန်ဖိုးမြှင့်ကုန်စည် (VAP)အဖြစ် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း၊ပင်လယ်ရေထွက်ပစ္စည်းများကို အမယ်သစ်ထုတ်ကုန်နှင့်အဆင်သင့်စားကုန်အဖြစ် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် ပုစွန်၊ ငါး၊ ဂဏန်းများကို သားဖောက်၍ မွေးမြူခြင်း၊ ဖြန့်ဖြူးပေးခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် အောက်ပါအကျိုးကျေးဇူးများ ရရှိမည်ဖြစ်ပါသည်-

(က) ဒေသဖွံ့ဖြိုးရေးနှင့် ဒေသခံပြည်သူများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိမည်ဖြစ်ပြီး ခေတ်မီနည်းပညာများ တိုးပွားရရှိစေမည်ဖြစ်ပါသည်။

(ခ) ဂဏန်းပျော့များ (Soft Shell) မွေးမြူပြီး တန်ဖိုးမြှင့်ကုန်စည် (VAP)အဖြစ် ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း၊ ပင်လယ်ရေထွက်ပစ္စည်းများကို အမယ်သစ်ထုတ်ကုန်နှင့် အဆင်သင့်စားကုန်အဖြစ် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် ပုစွန်၊ ငါး၊ ဂဏန်းများကို သားဖောက်၍ မွေးမြူခြင်း၊ ဖြန့်ဖြူးပေးခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ရန်ကုန်တိုင်းဒေသကြီးအတွင်းတွင် ပုစွန်၊ ငါး၊ ဂဏန်းများကို သားဖောက်၍ မွေးမြူခြင်း၊ ဖြန့်ဖြူးပေးခြင်းလုပ်ငန်းများကို အထောက်အကူပြုနိုင်မည်ဖြစ်ပါသည်။

၆။ SG Crabs World Ltd. သည် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ပြည်ပမှ အပ်နှံမည့် ပင်လယ်ရေထွက်ပစ္စည်းများကို လက်ခစားအပ်ကုန်စနစ် Contract Processing ဖြင့် ပြုပြင်ထုတ်လုပ်ပြီး ပြန်လည်တင်ပို့ခြင်းနှင့် ပြည်တွင်းမှ ပင်လယ်ရေထွက်ပစ္စည်းများကို ဝယ်ယူ၍ တန်ဖိုးမြှင့်ထုတ်ကုန် (Value–Added Product) အဖြစ် ပြောင်းလဲထုတ်လုပ်ခြင်း၊ သားဖေါက်စခန်း (Hatchery) တည်ထောင်ထုတ်လုပ်ခြင်းလုပ်ငန်းများကို လုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လျှောက်ထားလာခြင်းဖြစ်ပြီး ငါးလုပ်ငန်းဦးစီးဌာန၊ ဖွံ့ဖြိုးရေးနှင့်သုတေသနဌာနခွဲ၊ ငါးလုပ်ငန်းစစ်ဆေးရေးနှင့် အရည်အသွေးထိန်းသိမ်းရေးဌာနစုအနေဖြင့် ပြည်ပပို့ကုန် ရေထွက်ပစ္စည်း၏ အရည်အသွေးနှင့်စားသုံးသူများ ဘေးအန္တရာယ်ကင်းရှင်းစေရန် အဓိကထား၍ စစ်ဆေးဆောင်ရွက်ပေးခြင်းဖြစ်ပါသည်။

၇။ SG Crabs World Ltd. အနေဖြင့် ရေထွက်ပစ္စည်းများအား မွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ ပြည်ပမှတင်သွင်းခြင်း၊ ပြည်ပသို့တင်ပို့ခြင်းများအား ဆောင်ရွက်ရာတွင် စားသုံးသူများ ဘေးအန္တရာယ်မဖြစ်စေရန် (Supply Chain) တစ်လျှောက်လုံး ထုတ်လုပ်မှုအဆင့်တိုင်းအား အစားအသောက်မှ ဘေးအန္တရာယ်မဖြစ်စေရန် နိုင်ငံတကာစံ သတ်မှတ်ချက်များဖြစ်သည့် (GHP, GMP, HACCP) စနစ်များဖြင့် ထုတ်လုပ်ခြင်း၊ ကုန်တင်သွင်းသည့် နိုင်ငံ၏ဥပဒေ၊ နည်းဥပဒေများ (ဥပမာ EU requirement) မြန်မာနိုင်ငံ၏ အစားအသောက်ဆိုင်ရာဥပဒေ၊ နည်းဥပဒေနှင့် ငါးလုပ်ငန်းဦးစီးဌာန၏ ညွှန်ကြားချက်များအား လိုက်နာရမည်ဖြစ်ပါသည်။

၈။ သို့ဖြစ်ပါ၍ အထက်ဖော်ပြပါ ဥပဒေ၊ နည်းဥပဒေများအတိုင်း လိုက်နာဆောင်ရွက်မည်ဆိုပါက SG Crabs World Ltd. ၏ ဂဏန်းပျော့ (Soft shell Crab)များ မွေးမြူပြီး တန်ဖိုးမြှင့်ထုတ်ကုန်(VAP)အဖြစ် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် ကန့်ကွက်ရန်မရှိပါကြောင်း မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား အကြောင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဒေါက်တာခင်မောင်ဖေ၊ ညွှန်ကြားရေးမှူးချုပ်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ကန့်သတ်

၁၈

နောက်ဆက်တွဲ(ခ)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန**

**ပြည်ထောင်စုဝန်ကြီးရုံး**

MIT-1883
29.9.14

97
30/9

**စာအမှတ်** ၂/၂၂၀(ခ)(၆)/( ၃၃၄၇ /၂၀၁၄)

**ရက်စွဲ** ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ ၂၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **SG Crabs World Ltd. မှ ကဏန်းပျော့များမွေးမြူပြီး တန်ဖိုးမြင့်ကုန်စည်အဖြစ် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် ကိစ္စနှင့် ပတ်သက်၍ သဘောထားမှတ်ချက်တင်ပြခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆-၉-၂၀၁၄ ရက်စွဲပါစာအမှတ် ရက-၂ /န-၁၀၈ /၂၀၁၄(၁၀၉၀)

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ ဘရူနိုင်းဒါရူဆလမ်နိုင်ငံ Specious Global Co., Ltd. မှ ၉၀ % နှင့် မြန်မာနိုင်ငံ Crabs Worlds Industries Co., Ltd. မှ ၁၀% အစုရှယ်ယာများထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် SG Crabs World Ltd. တည်ထောင်ကာ မြေကွက်အမှတ်-(၆၁၂)၊(၆၁၃-က)၊ (၆၁၈-က)၊ ငွေးပင်ကွင်း၊ ဆိပ်ကြီးအနောက်ကွင်း၊ ကရပ်ကွင်း၊ ဦးပိုင်အမှတ်-၇-၃-၂၊ ၆-၁-၁၂ ကျောက်တန်း ကဏန်းမွေးမြူရေးခုန်၊ MEC လမ်း၊ သီတာမြိုင်ရပ်ကွက်၊ ကျောက်တန်းမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီးတွင် ကဏန်းပျော့များ (Soft Shell) မွေးမြူပြီး တန်ဖိုးမြင့်ကုန်စည် (VAP)အဖြစ် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ ဌာနဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့်အဆိုပြုလွှာတွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံခွင့်လျှောက်ထားခြင်း၊ ကဏန်းပျော့များ(Soft Shell) မွေးမြူပြီး တန်ဖိုးမြင့်ကုန်စည် (VAP) အဖြစ် ပြုပြင်ထုတ်လုပ်ခြင်း၊ ပင်လယ်ရေထွက်ပစ္စည်းများကို အမယ်သစ်ထုတ်ကုန်နှင့် အဆင်သင့်စားကုန်အဖြစ် ပြုပြင်ထုတ်လုပ်ခြင်း၊ ပုဇွန်၊ ငါး၊ ကဏန်းများကို သားဖောက်၍မွေးမြူခြင်း၊ ဖြန့်ဖြူးပေးခြင်းများကို ဆောင်ရွက်မည်ဖြစ်ကြောင်း၊ အသုံးပြုမည့်ကုန်ကြမ်းပစ္စည်းစာရင်း၊ ထုတ်လုပ်မည့်ပမာဏ (ပထမ နှစ်တွင် ၆၀၀,၀၀၀ ကီလိုဂရမ် ထုတ်လုပ်ကာ နှစ်စဉ်တိုးမြှင့်ထုတ်လုပ်မည်ဖြစ်ပြီး ခြောက်နှစ် မြောက်တွင် ၁,၀၁၀,၀၀၀ ကီလိုဂရမ် ထုတ်လုပ်မည်ဖြစ်ကြောင်း)၊ ထုတ်လုပ်မှုလုပ်ငန်းစဉ်အဆင့်ဆင့်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးအတွက် ဆောင်ရွက်

ထားရှိမည့်အစီအစဉ်များ၊ လျှပ်စစ်ဓာတ်အား ရယူသုံးစွဲမည့်အစီအစဉ်၊ မီးအန္တရာယ်ကာကွယ်ရေးနှင့်ပတ်သက်သည့် အသေးစိတ်အစီအစဉ်များ၊ လုပ်ငန်းဆောင်ရွက်ရန် မြေနေရာအသုံးပြုခွင့်နှင့်ပတ်သက်၍ ရန်ကုန်တောင်ပိုင်းခရိုင်၊ ခရိုင်လယ်ယာမြေ စီမံခန့်ခွဲမှုအဖွဲ့သို့ တင်ပြစာများနှင့် ရန်ကုန်တိုင်းဒေသကြီး ငါးလုပ်ငန်းဦးစီးဌာန၏ ထောက်ခံတင်ပြစာ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးအနေဖြင့်လိုအပ်ပါက ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (သို့မဟုတ်) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းကို ဆောင်ရွက်မည်ဖြစ်ကြောင်း ၊ စက်ရုံပတ်ဝန်းကျင် သန့်ရှင်းရေးလုပ်ငန်းများဆောင်ရွက်ခြင်း၊ အမှိုက်များအား အမျိုးအစားခွဲခြား၍ ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီ၏ညွှန်ကြားချက်များအတိုင်း ဆောင်ရွက်မည်ဖြစ်ကြောင်း၊ စွန့်ပစ်ရေဆိုးစီမံခန့်ခွဲမှုပုံစံ (waste water treatment processes layout plan) နှင့် အသားတင် အမြတ်ငွေ၏ ၂ % အား Corporate Social Responsibility (CSR) လုပ်ငန်းများအတွက် အသုံးပြုမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။

၃။ လက်ရှိအဆောက်အဦအား အဆင့်မြှင့် တင်တည်ဆောက်ခြင်းနှင့် စက်ရုံလည်ပတ်ခြင်းကြောင့်ထွက်ရှိမည့် စွန့်ပစ်ပစ္စည်း၊ အခိုးအငွေ့များနှင့် ဖုန်မှုန့်များ ၊ စွန့်ပစ်အရည်များကြောင့် မြေထု၊လေထု၊ ရေထုညစ်ညမ်းမှုအသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများအား စနစ်တကျသိုလှောင်မှုနှင့် စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်ခြင်းမရှိပါက အနံ့အသက်များထွက်ရှိ၍ ပတ်ဝန်းကျင်ရှိပြည်သူများအား အနှောင့်အယှက်ဖြစ်ပေါ်စေနိုင်မှု ၊ လုပ်ငန်းသဘာဝအရ အအေးခန်းများတွင်လုပ်ငန်းဆောင်ရွက်မည် ဖြစ်သဖြင့်ဝန်ထမ်းများ၏ လုပ်ငန်းခွင်ကျန်းမာရေးဆိုင်ရာ ကိစ္စရပ်များစသည့် ပတ်ဝန်းကျင်နှင့် လုပ်ငန်းခွင်ဆိုင်ရာ ပြဿနာများဖြစ်ပေါ်နိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ ကဏန်းပျော့များ (Soft Shell) မွေးမြူပြီး တန်ဖိုးမြှင့်ကုန်စည် (VAP) အဖြစ်ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍အောက်ပါအချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလွှာပါ လုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်မှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်းလည်ပတ်ခြင်းနှင့်ထုတ်လုပ်ခြင်းအဆင့်ဆင့်တို့၏ စီမံကိန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး၊ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်အစီအစဉ်များရေးဆွဲပြီး လိုက်နာဆောင်ရွက်ရန်၊

(ခ) လုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုများအနည်းဆုံးဖြစ်စေရေး ဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်များအားစီမံခန့်ခွဲမည့် အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ဆောင်ရွက်မည့်ပုဂ္ဂိုလ်သို့မဟုတ် အဖွဲ့အစည်း၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့နည်းစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည့်တို့ပါဝင်သည့်

ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် ( Environmental Management Plan – EMP)ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဂ) လုပ်ငန်းတွင်အသုံးပြုမည့် အအေးခန်းသုံးပစ္စည်းများအား သတ်မှတ်စံချိန်စံညွှန်းနှင့်ကိုက်ညီသည့် ပစ္စည်းများကိုအသုံးပြုရန်၊ လုပ်ငန်းခွင် လေကောင်းလေသန့်ရရှိရေး၊ ပတ်ဝန်းကျင် သန့်ရှင်းကောင်းမွန်ရေးအတွက် သင့်တော်မည့် ရေစီးရေလာစနစ်ထားရှိရန်နှင့် စက်ရုံပတ်ဝန်းကျင် စိမ်းလန်းစိုပြည်ရေးအတွက် သစ်ပင်များနှင့် ပန်းအလှပင်များ စိုက်ပျိုးထားရှိရန်၊

(ဃ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သက်ဆိုင်ရာဝန်ကြီးဌာန အသီးသီးမှ ထုတ်ပြန်ထားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊နည်းဥပဒေ၊စည်းမျဉ်းစည်းကမ်းနှင့် ညွှန်ကြားချက်များကိုတိကျစွာလိုက်နာဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(မျိုးညွှန့်၊ ရုံး အ ဖွဲ့ မှူး)

မိတ္တူ -ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၂ / ၃ - ၆ (၅) / စီးပွား

ရက် စွဲ ၊ ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာ လ ၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်။

အကြောင်းအရာ ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆. ၉. ၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက - ၂/ န - ၁၀၈ / ၂၀၁၄ (၀၀၉၂)

၁။ ဘရူနိုင်းဒါရူဆလမ်နိုင်ငံ၊ Spacious Global Co., Ltd. မှ ၉၀%နှင့် မြန်မာနိုင်ငံ၊ Crabs World Industries Co., Ltd. မှ ၁၀% ဖက်စပ်ပြု၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် SG Crabs World Ltd. တည်ထောင်ကာ မြေကွက်အမှတ်-၆၁၂၊ ၆၁၃-က၊ ၆၁၈-က၊ ငွေးပင်ကွင်း၊ ဆိပ်ကြီးအနောက်ကွင်း၊ ကရပ်ကွင်း၊ ဦးပိုင်အမှတ် ၇-၃-၂၊ ၆-၁-၁၊ ၂ ကျောက်တန်းဂဏန်းမွေးမြူထုတ်လုပ်ရေးဇုန်၊ MEC လမ်း၊ သီတာမြိုင်ရပ်ကွက်၊ ကျောက်တန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် ဂဏန်းပျော့များ (Soft Shell)မွေးမြူပြီး တန်ဖိုးမြှင့်ကုန်စည် (VAP) အဖြစ် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုမည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက နိုင်ငံခြားသား(၁၀)ဦး၊ ပြည်တွင်းလုပ်သားအင်အား(၁၀၅၀)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် မြေကွက်အမှတ်-၆၁၂၊ ၆၁၃-က၊ ၆၁၈-က၊ ငွေးပင်ကွင်း၊ ဆိပ်ကြီးအနောက်ကွင်း၊ ကရပ်ကွင်း၊ ဦးပိုင်အမှတ် ၇-၃-၂၊ ၆-၁-၁၊ ၂ ကျောက်တန်း ဂဏန်းမွေးမြူထုတ်လုပ်ရေးဇုန်၊ MEC လမ်း၊ သီတာမြိုင်ရပ်ကွက်၊ ကျောက်တန်းမြို့နယ်အား USD 5.723 per square meter per year of leased land and Building areaper annum နှုန်းဖြင့် နှစ် ၃၀(၂၀၁၄ မှ ၂၀၄၃ အထိ) ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၄. ၁၂. ၂၀၁၄) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၄၆/၂၀၁၄)၊ ဆုံးဖြတ်ချက်အပိုဒ် (၃၃)အရ SG Crabs World Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

၃။ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ ဝန်ကြီးချုပ်မှာ တာဝန်အရအစည်းအဝေးတက်ရောက်နေပါသဖြင့် ဝန်ကြီးချုပ်ကိုယ်စား၊ ဦးစိုးမင်း၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ စိုက်ပျိုးရေးနှင့်မွေးမြူရေးဝန်ကြီးမှ လက်မှတ်ရေးထိုးခြင်းဖြစ်ပါသည်။

ဝန်ကြီးချုပ် ( ကိုယ်စား )
( စိုးမင်း၊ တိုင်းဒေသကြီးစိုက်ပျိုးရေးနှင့်မွေးမြူရေးဝန်ကြီး )

မိတ္တူကို

ရန်ကုန်တိုင်းဒေသကြီးစိုက်ပျိုးရေးနှင့်မွေးမြူရေးဝန်ကြီး
ရန်ကုန်တောင်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ကျောက်တန်းမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
SG Crabs World Ltd.
လက်ခံစာတွဲ
မျှောစာတွဲ